# ကန့်သတ်

ကုမ္ပဏီအမည် - Wartayar Veneer Industries Private Limited

လုပ်ငန်း - ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Wartayar Veneer Industries Private Limited မှ ဈေးကွက်ဝင် မျက်နှာပြင်သစ်ပါးလွှာ၊ မျက်နှာပြင်ကပ်သစ်ပါးလွှာ၊ သစ်ခွဲသား၊ ကျွန်းသစ်ပါးလွှာနှင့် အထပ်သား ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့်နေ့စွဲ | ပြန်ကြားချက်ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလွှာလက်ခံရရှိခြင်း | ၂၇-၅-၂၀၁၅ | | |
| ၂ | အဆိုပြုချက်အား ကုမ္ပဏီဌာနခွဲသို့ ပေးပို့အကြောင်းကြားခြင်း | ၉-၆-၂၀၁၅ | | |
| ၃ | သဘောထားမှတ်ချက်တောင်းခံခြင်း | | | |
| | (က) ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ | ၃၀-၅-၂၀၁၅ | ၁၇-၅-၂၀၁၅ | |
| | (ခ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန | ၃၀-၅-၂၀၁၅ | ၁၁-၅-၂၀၁၅ | |
| | (ဂ) စက်မှုဝန်ကြီးဌာန | ၃၀-၅-၂၀၁၅ | ၁၆-၆-၂၀၁၅ | |
| ၃ | PAT တင်ပြခြင်း (၁၈/၂၀၁၅) | ၁-၆-၂၀၁၅ | | |
| ၄ | PAT လက်ခံကြောင်းပြန်ကြားခြင်း | ၁-၆-၂၀၁၅ | | |
| ၅ | PATဆုံးဖြတ်ချက်အရ လိုအပ်ချက်များ အကြောင်းကြားခြင်း | - | | |
| ၈ | မြေအသုံးပြုခွင့်တင်ပြခြင်း | | | |
| | (က) ကော်မရှင် အစည်းအဝေး (၁၀/၂၀၁၅) သို့ တင်ပြခြင်း | ၅-၆-၂၀၁၅ | | |
| | (ခ) စီးပွားရေးရာကော်မတီ အစည်းအဝေးသို့ တင်ပြခြင်း | | | ဆောင်ရွက်ဆဲ |
| | (ဂ) ပြည်ထောင်စုအစိုးရအဖွဲ့သို့ တင်ပြခြင်း | | | |
| ၉ | ကုမ္ပဏီမှ လိုအပ်ချက်များ ပြင်ဆင်တင်ပြခြင်း | ၂၂-၆-၂၀၁၅ | | |
| ၁၀ | ကော်မရှင်အစည်းအဝေးသို့ တင်ပြရန် ပြုစုခြင်း | ၃-၇-၂၀၁၅ | | |
| | စုစုပေါင်းကြာမြင့်ရက် | ၃၈ ရက် | | |

| | |
|---|---|
| ကုမ္ပဏီအမည် | Wartayar Veneer Private Limited |
| အဖွဲ့အစည်းပုံသဏ္ဍာန် | ရာနှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု |
| လုပ်ငန်းအမျိုးအစား | ဈေးကွက်ဝင် မျက်နှာပြင်သစ်ပါးလွှာ၊မျက်နှာပြင်ကပ်သစ်ပါးလွှာ၊သစ်ခွဲသား၊ကျွန်းသစ်ပါးလွှာနှင့်အထပ်သား ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း |
| တည်နေရာ | ရန်ကုန်တိုင်းဒေသကြီး၊ ရွှေပြည်သာမြို့နယ်၊ ဝါးတစ်ရာ စက်မှုဇုန်၊ အကွက်အမှတ်(၃၂၂၊ ၃၂၃) |
| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | အမေရိကန်ဒေါ်လာ ၂.၉၆ သန်း |
| ရောင်းချမည့်စနစ် | ပြည်ပတင်ပို့၊ ပြည်တွင်းရောင်း |
| လုပ်ငန်းသက်တမ်း | ၃၀ နှစ် |
| အရင်းကြေကာလ | ၃ နှစ် ၁၁ လ |
| IRR | ၂၀% |

အထက်ပါလုပ်ငန်း ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစုတင်ပြအပ်ပါသည်။

| စဉ် | အကြောင်းအရာ | Cost (ကျပ်သန်း) | Benefit(ကျပ်သန်း) |
|---|---|---|---|
| ၁ | နိုင်ငံဝန်ထမ်းလစာ | ၂.၁၆၀ | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | | ၁.၁၆၅ |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ၂၄၅.၁၄၀ | |
| ၄ | ကုန်သွယ်လုပ်ငန်းခွန် | ၄၇၅.၈၆၀ | ၅၇၆.၈၀၀ |
| ၅ | ဝင်ငွေခွန် | ၇၉၀.၈၁၃ | ၄၃၅.၆၉၀ |
| ၆ | ရေ၊ လျှပ်စစ်မီးသုံးစွဲခ | | ၇၁၀၇.၀၀၀ |
| ၇ | လုပ်ခလစာအပေါ် ဝင်ငွေခွန် | | တစ်နှစ်ဝင်ငွေ ကျပ်သိန်း နှစ်ဆယ် ထက်ကျော် ပါကအခွန်ပေးရမည့် ဝန်ထမ်း(၃၄)ဦး |
| ၈ | CSR (၂%) | | ၆၄.၈၉၀ |
| ၉ | မြေငှားရမ်းခရငွေ | | ၆၆၉.၅၀၀ |
| ၁၀ | အလုပ်အကိုင် အခွင့်အလမ်း | | ပြည်တွင်း ၃၄၃ ဦး<br>ပြည်ပ ၂၅ ဦး<br>ပြည်တွင်းလုပ်သား (၃၄၃) ဦး အလုပ်အကိုင် ရရှိမည်ဖြစ်၍ ဒေသ အလုပ်အကိုင်အခွင့်အလမ်း နှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုကို အထောက်အကူပြုစေပါသည်။ |
| | | ၁၅၁၄.၉၇၃ | ၈၈၅၅.၀၄၅ |
| | Cost & Benefit | ၁:၆ | |

အကြောင်းအရာ။ ရခိုင်နွန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Wartayar Veneer Industries Private Limited မှ ဈေးကွက်ဝင် မျက်နှာပြင်သစ်ပါးလွှာ၊ မျက်နှာပြင်ကပ်သစ်ပါးလွှာ၊ သစ်ခွဲသား၊ ကျွန်းသစ်ပါးလွှာနှင့် အထပ်သား ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ ကမကထပြုသူ | - Wartayar Veneer Industries Private Limited<br>- Mr. Shyam Daga |
| | အဖွဲ့အစည်းပုံသဏ္ဌာန် | - ရခိုင်နွန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု (အိန္ဒိယနိုင်ငံ) |
| | လုပ်ငန်းအမျိုးအစား | - ဈေးကွက်ဝင် မျက်နှာပြင်သစ်ပါးလွှာ၊ မျက်နှာပြင်ကပ်သစ်ပါးလွှာ၊ သစ်ခွဲသား၊ ကျွန်းသစ်ပါးလွှာနှင့် အထပ်သား ထုတ်လုပ် ရောင်းချခြင်း လုပ်ငန်း |
| ၂။ | တည်နေရာ | - ရန်ကုန်တိုင်းဒေသကြီး၊ ရွှေပြည်သာမြို့နယ်၊ ဝါးတရာ စက်မှုဇုန်၊ အကွက်အမှတ်-၄၉၊ မြေကွက်အမှတ်-၃၂၂၊ ၃၂၃ |
| | မြေပိုင်ရှင် | - ဒေါ်အေးအေးသွင် |
| | မြေအကျယ်အဝန်း | - စုစုပေါင်း ၄.၀၁၈ ဧက (၁၆,၂၆၀.၂၇ စတုရန်းမီတာ) |
| ၃။ | နှစ်စဉ်မြေငှားရမ်းခ | - တစ်နှစ်လျှင် US$ ၁၃၂,၀၀၀ ရှုန်း<br>(တစ်နှစ် တစ်စတုရန်း မီတာလျှင် US$ ၈.၁၂ ရှုန်း) |
| ၄။ | လုပ်ငန်းသက်တမ်း | - ကနဦး ၃၀ နှစ် |
| | တည်ဆောက်ရေးကာလ | - ၁၅ လ |
| ၅။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - US$ ၂.၉၆ သန်း |
| | ထည့်ဝင်သည့်အမျိုးအစား | Foreign Capital (US$ သန်း) |
| | ငွေသား | ၀.၂၀ |
| | စက်ပစ္စည်း (ပြည်ပဝယ်) | ၂.၃၈ |
| | ရုံးသုံးပရိဘောဂ | ၀.၀၃ |
| | အဆောက်အဦ | ၀.၃၅ |
| | **စုစုပေါင်း** | ၂.၉၆ |
| ၆။ | ဝန်ထမ်းအင်အား | - **၃၆၈ ဦး** |
| | ပြည်တွင်း | - ၃၄၃ ဦး (ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာ ၉၀,၀၀၀ ကျပ် နှင့် အမြင့်ဆုံးလစာ ၂၀၅,၀၀၀ ကျပ်) |
| | ပြည်ပ | - ၂၅ ဦး (ပြည်ပဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံး လစာ US$ ၄၀၀ နှင့် အမြင့်ဆုံးလစာ US$ ၂,၀၀၀) |
| ၇။ | ရောင်းချမည့်စနစ်<br>နှစ်စဉ်ထုတ်လုပ်မှု ပုံမှန်နှစ်<br>(၆)နှစ်မြောက်<br>(ပြည်တွင်းရောင်း) | - ပြည်ပတင်ပို့၊ ပြည်တွင်းရောင်း |

| စဉ် | ပစ္စည်း အမျိုးအစား | အရေအတွက် (CBM) | ရောင်းချမည့် ဈေးနှုန်း (ကျပ်/CBM) |
|---|---|---|---|
| ၁။ | Plywood (၂၀%) | | |
| | (က) 3.20 MM | ၁၈၃၁.၆၈ | ၆၈၃,၅၇၆.၀၀ |
| | (ခ) 6.00 MM | ၉၆၇.၆၈ | ၆၇၀,၄၃၀.၀၀ |
| | (ဂ) 12.00 MM | ၃၁၁.၀၄ | ၆၃၀,၉၉၄.၀၀ |
| | (ဃ) 19.00 MM | ၃၄၅.၆၀ | ၅၉၁,၅၅၆.၀၀ |

| | | |
|---|---|---|
| | နှစ်စဉ်ထုတ်လုပ်မှု ပုံမှန်နှစ်<br>(၆)နှစ်မြောက်<br>(ပြည်ပတင်ပို့) | စဉ် / ပစ္စည်းအမျိုးအစား / အရေအတွက် (CBM) / ရောင်းချမည့်ဈေးနှုန်း (US$/CBM)<br>၁။ Plywood (၈၀%)<br>(က) 3.20 MM — ၇၃၂၆.၇၂ — ၈၃၀.၀၀<br>(ခ) 6.00 MM — ၃၈၇၀.၇၂ — ၈၀၅.၀၀<br>(ဂ) 12.00 MM — ၁၂၄၄.၁၆ — ၇၄၀.၀၀<br>(ဃ) 19.00 MM — ၁၃၈၂.၄၀ — ၇၀၂.၀၀<br>၂။ Veneer (၁၀၀%)<br>(က) Face — ၁၂၈၈၇.၀၀ — ၆၃၈.၀၀<br>(ခ) Core — ၁၆၀၆၀.၀၀ — ၃၀၀.၀၀<br>(ဂ) Teak — ၈၇၄.၀၀ — ၅,၂၉၇.၀၀<br>၃။ Sawn Timber (၁၀၀%) — ၁၃၈၄၃.၀၀ — ၈၇၅.၀၀ |
| ၈။ | ကုမ္ပဏီ၏ ဝင်ငွေ (၆ နှစ်မြောက်)<br>အသုံးစရိတ်<br>ကုမ္ပဏီ၏ အသားတင်အမြတ်(၆ နှစ်) | - US$ ၃၅.၃၅ သန်း<br>- US$ ၃၄.၈၅ သန်း<br>- US$ ၀.၅၀ သန်း |
| ၉။ | နိုင်ငံတော်မှရရှိမည့်အကျိုးအမြတ်<br>ဝင်ငွေခွန်<br>ကုန်သွယ်လုပ်ငန်းခွန်<br>အရင်းကြေကာလ<br>အရင်းအနှီးအပေါ်အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) | <br>- US$ ၀.၁၇ သန်း<br>- US$ ၀.၁၁ သန်း<br>- ၃ နှစ် ၁၁ လ<br>- ၂၀ % |
| ၁၀။ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု (နှစ်စဉ်) | - ၂၆၀ KVA |
| ၁၁။ | CSR | - အသားတင်အမြတ်၏ ၂ % |
| ၁၂။ | မီးဘေးကာကွယ်ရေးစီမံချက် | - ရေလှောင် ကန်ထားရှိခြင်း၊ မီးသတ်ဘူး၊ ရေပုံး၊ မီးကပ်၊ မီးချိတ်၊ သဲအိတ်များထားရှိခြင်း၊ ဝန်ထမ်းများအား မီးဘေး အန္တရာယ်ကာကွယ်ရန် စည်းကမ်းချက်များ ထားရှိ၍ တိကျစွာလိုက်နာဆောင်ရွက်စေခြင်း၊ အရေးပေါ် မီးသတ် နည်းပညာများ လေ့ကျင့်သင်ကြားပေးခြင်း၊ ဆေးလိပ်သောက်ခြင်းအား တားမြစ်ထားခြင်း၊ ဝန်ထမ်းများအား အလှည့်ကျ မီးကင်းစောင့်စေခြင်း၊ မီးလောင်လျှင် အလိုအလျောက်အချက်ပေးသည့် စနစ် တပ်ဆင်ခြင်းတို့ကို ဆောင်ရွက်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။ |

| | | |
|---|---|---|
| ၁၃။ | အခြားတင်ပြချက် | - Wartayar Veneer Industries Private Limited MOA, AOA မူကြမ်း တင်ပြထားပါသည်။<br>- ဒါရိုက်တာ အဖွဲ့ဝင်များ၏ နိုင်ငံကူးလက်မှတ် မိတ္တူများ တင်ပြထားပါသည်။<br>- ဒေါ်အေးအေးသွင် အမည်ဖြင့် စက်မှုလက်မှုလုပ်ငန်း မြေဂရန်မိတ္တူ၊<br>- ဒေါ်အေးအေးသွင် အမည်ပေါက် မြေကွက်အမှတ် ၃၂၂ နှင့် ၃၂၃ အတွက် စက်မှုလက်မှုလုပ်ငန်း မြေအသုံးပြုခွင့် မိတ္တူ၊<br>- မြေပိုင်ရှင် ဒေါ်အေးအေးသွင် နှင့် မြေငှားသူ Wartayar Veneer Industries Private Limited တို့ မြေကွက် အမှတ် ၃၂၂ နှင့် ၃၂၃ စုစုပေါင်း မြေဧရိယာ ၄.၀၁၈ ဧက အတွက် ချုပ်ဆိုမည့် မြေငှားစာချုပ် (မူကြမ်း)၊<br>- Archidply Industries Ltd. နှင့် The Mysore Chipboard Limited တို့၏ ကုမ္ပဏီမှတ်ပုံတင်မိတ္တူများနှင့် MOA, AOA မိတ္တူများ တင်ပြထားပါသည်။<br>- အိန္ဒိယနိုင်ငံရှိ ICICI Bank မှ ၁-၄-၂၀၁၅ ရက်စွဲဖြင့် Archidply Industries Ltd. သည် ရူပီး ၁၁၁,၆၇၆.၀၅ ရှိကြောင်းနှင့် VIJAYA Bank တွင် ၁၅-၄-၂၀၁၅ ရက်နေ့၌ ရူပီး ၃၇၆,၃၄၂,၉၇၀.၄၈ ရှိကြောင်း ငွေကြေး အထောက်အထား တင်ပြထားပါသည်။<br>- အိန္ဒိယနိုင်ငံရှိ ICICI Bank မှ ၂၄-၄-၂၀၁၅ ရက်စွဲဖြင့် The Mysore Chipboards Ltd သည် ရူပီး ၅၂၅,၂၇၅.၇၉ ရှိကြောင်း ငွေကြေးအထောက်အထား တင်ပြထားပါသည်။<br>- အိန္ဒိယနိုင်ငံရှိ ICICI Bank မှ ၂၄-၄-၂၀၁၅ ရက်စွဲဖြင့် Mr. Shyam Daga သည် ရူပီး ၅၉,၁၁၂.၈၆ ရှိကြောင်း ငွေကြေးအထောက် အထား တင်ပြထားပါသည်။<br>- အိန္ဒိယနိုင်ငံရှိ United Bank of India မှ ၁၁-၂-၂၀၁၅ ရက်စွဲဖြင့် Mr. Sandeep Bharadia သည် ရူပီး ၃၄၃,၉၀၁.၄၇ ရှိကြောင်း ငွေကြေးအထောက်အထား တင်ပြထားပါသည်။ |

| | | |
|---|---|---|
| | | - လုပ်ငန်းခွင်သာယာရေးနှင့် ဝန်ထမ်းသက်သာချောင်ချိရေး စီမံချက်၊ ဝန်ထမ်းများ၏ ကျန်းမာရေးအတွက်စီမံချက်၊ ပတ်ဝန်းကျင်ထိန်းသိမ်းစောင့်ရှောက်မည်ဖြစ်ကြောင်းကတိ ဝန်ခံချက်၊ အလုပ်သမားများ လစာအပေါ် ဝင်ငွေခွန် ပေးဆောင်မည်ဖြစ်ကြောင်း ဝန်ခံကတိပြုစာ၊ လုပ်ငန်း သဘောသဘာဝ၊ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များ လျှောက်ထားချက်နှင့် CSR Project တို့ကို တင်ပြထား ပါသည်။<br>- စက်ရုံ၏ တည်နေရာပြမြေပုံ၊ အဆောက်အဦဓာတ်ပုံများ၊ တင်ပြထားပါသည်။<br>- သစ်တောဦးစီးဌာနသို့ ပုဂ္ဂလိကသစ်တောစိုက်ခင်း ဧက (၁၀၀၀) တည်ထောင်ခွင့် လျှောက်ထားချက် (မိတ္တူ) နှင့် ကတိ ခံဝန်ချက်တို့အား တင်ပြထားပါသည်။<br>- ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန သဘောထားမှတ်ချက်အတိုင်း EIA နှင့် EMP အစီအစဉ် များကိုဆက်လက်ဆောင်ရွက်၍တင်ပြသွားမည်ဖြစ်ကြောင်း ကတိဝန်ခံချက် တင်ပြထားပါသည်။ |
| ၁၄။ | စိစစ်တင်ပြချက် | - Exchange Rate အနေဖြင့် 1 US$ =1030 MMK ဖြင့် ဖော်ပြထားပါသည်။<br>- ပုဂ္ဂလိကမြေအား နိုင်ငံခြားသားပိုင်ကုမ္ပဏီသို့ ငှားရမ်းခြင်း အတွက် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၁၀/၂၀၁၅) ကြိမ်မြောက် အစည်းအဝေးသို့လည်းကောင်း၊ စီးပွားရေးရာ ကော်မတီနှင့် ပြည်ထောင်စု အစိုးရအဖွဲ့ အစည်းအဝေးများသို့ ဆက်လက်တင်ပြသွားမည် ဖြစ်ပါ သည်။ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊ ရက-၂/န-၁၂၆/၂၀၁၅ ( ၅၁၀ )
ရက်စွဲ ၊ ၂၀၁၅ ခုနှစ် ဇွန်လ ၃၀ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**
**တင်ပြသည့်အမှာစာ**

အကြောင်းအရာ။ **ရာနိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Wartayar Veneer Industries Private Limited မှ ဈေးကွက်ဝင် မျက်နှာပြင်သစ်ပါးလွှာ၊ မျက်နှာပြင်ကပ်သစ်ပါးလွှာ၊ သစ်ခွဲသား၊ ကျွန်းသစ်ပါးလွှာနှင့် အထပ်သား ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ**

၁။ အိန္ဒိယနိုင်ငံ Archidply Industries Limited. မှ ၁၉%၊ The Mysore Chipboards Limited မှ ၇၉%၊ Mr. Shyam Daga မှ ၁%၊ Mr. Sandeep Kumar Bharadia နှင့် Mr. Rangarajan Ramachettiar တို့မှ ၁% ပါဝင်၍ ရာနိုင်နှုန်းပြည့် နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Wartayar Veneer Industries Private Limited တည်ထောင်ကာ မြေကွက်အမှတ်-၃၂၂၊ ၃၂၃၊ အကွက်အမှတ်-၄၉၊ ဝါးတရာစက်မှုဇုန်၊ ရွှေပြည်သာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ စုစုပေါင်းမြေဧရိယာ ၄.၀၁၈ ဧက (၁၆,၂၆၀.၂၇ စတုရန်းမီတာ) ကို ငှားရမ်းကာ ဈေးကွက်ဝင် မျက်နှာပြင်သစ်ပါးလွှာ၊ မျက်နှာပြင်ကပ်သစ်ပါးလွှာ၊ သစ်ခွဲသား၊ ကျွန်းသစ်ပါးလွှာနှင့် အထပ်သား ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုတင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်အတူ မြေပိုင်ရှင် ဒေါ်အေးအေးသွင်နှင့် မြေငှားသူ Wartayar Veneer Industries Private Limited တို့ မြေကွက်အမှတ် ၃၂၂ နှင့် ၃၂၃ အတွက် ချုပ်ဆိုမည့် မြေငှားစာချုပ် (မူကြမ်း)၊ မြေပိုင်ရှင် ဒေါ်အေးအေးသွင် အမည်ဖြင့် ရရှိထားသော မြေကွက်အမှတ် ၃၂၂ နှင့် ၃၂၃ အတွက် စက်မှုလက်မှုလုပ်ငန်း မြေဂရန် (မိတ္တူ) များကို တင်ပြထားပါသည်။

၃။ မြေအကျယ်အဝန်းမှာ ၄.၀၁၈ ဧက (၁၆,၂၆၀.၂၇ စတုရန်းမီတာ)ဖြစ်ပြီး မြေငှားရမ်းခမှာ တစ်နှစ် တစ်စတုရန်းမီတာလျှင် US$ ၈.၁၂ နှုန်းဖြင့် တစ်နှစ်လျှင် US$ ၁၃၂,၀၀၀ ဖြစ်ပါသည်။

၄။ လုပ်ငန်းစီမံကိန်း ကာလမှာ ကနဦး ၃၀ နှစ် ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ ၁၅ လ ကြာမြင့်မည် ဖြစ်ကြောင်း တင်ပြထားပါသည်။

၅။ လုပ်ငန်း၏ စုစုပေါင်းရင်းနှီးမြှုပ်နှံမှုမှာ အမေရိကန်ဒေါ်လာ ၂.၉၆ သန်း ဖြစ်ပြီး အောက်ပါအတိုင်း ထည့်ဝင်ထားပါသည်-

| | | Foreign Capital (US$ သန်း) |
|---|---|---|
| (က) | ငွေသား | ၀.၂၀ |
| (ခ) | စက်ပစ္စည်း | ၂.၃၈ |
| (ဂ) | ရုံးသုံးပရိဘောဂ | ၀.၀၃ |
| (ဃ) | အဆောက်အဦ | ၀.၃၅ |
| | **စုစုပေါင်း** | **၂.၉၆** |

၆။ လုပ်ငန်းဆောင်ရွက်ရန် ပြည်တွင်းဝန်ထမ်းဦးရေ ၃၄၃ ဦးနှင့် ပြည်ပမှ ကျွမ်းကျင်ဝန်ထမ်းဦးရေ ၂၅ ဦး စုစုပေါင်း ၃၆၈ ဦး ခန့်ထားမည်ဖြစ်ပြီး ပြည်တွင်း ဝန်ထမ်း တစ်ဦး၏ အနိမ့်ဆုံးလစာ ကျပ် ၉၀,၀၀၀ နှင့် အမြင့်ဆုံးလစာ ကျပ် ၂၀၅,၀၀၀ ဖြစ်ကြောင်းနှင့် ပြည်ပဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ အမေရိကန်ဒေါ်လာ ၄၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ အမေရိကန်ဒေါ်လာ ၂၀၀၀ ဖြစ်ပါသည်။

၇။ အဆိုပြုလုပ်ငန်းမှ ထွက်ရှိလာသည့် Plywood များအား ပြည်တွင်း၌ ၂၀% ရောင်းချမည်ဖြစ်ပြီး Plywood အား ၈၀% နှင့် Veneer၊ Sawn Timber များအား ရာခိုင်နှုန်းပြည့် တင်ပို့မည်ဖြစ်ပါသည်။ နှစ်စဉ်ပုံမှန်နှစ် (ဆဋ္ဌမမြောက်နှစ်) ရှိ ထုတ်လုပ်မှုနှင့် ရောင်းဈေးနှုန်းမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| စဉ် | ပစ္စည်းအမျိုးအစား (ပြည်တွင်းရောင်း) | အရေအတွက် (CBM) | ရောင်းချမည့် ဈေးနှုန်း (ကျပ်/CBM) |
|---|---|---|---|
| (က) | Plywood (၂၀%) | | |
| | (၁) 3.20 MM | ၁၈၃၀.၆၈ | ၆၈၃,၅၇၆.၀၀ |
| | (၂) 6.00 MM | ၉၆၇.၆၈ | ၆၇၀,၄၃၀.၀၀ |
| | (၃) 12.00 MM | ၃၁၀.၀၄ | ၆၃၀,၉၉၄.၀၀ |
| | (၄) 19.00 MM | ၃၄၅.၆၀ | ၅၉၁,၅၅၆.၀၀ |

| စဉ် | ပစ္စည်းအမျိုးအစား (ပြည်ပပို့) | အရေအတွက် (CBM) | ရောင်းချမည့် ဈေးနှုန်း (US$/CBM) |
|---|---|---|---|
| (က) | Plywood (၈၀%) | | |
| | (၁) 3.20 MM | ၇၃၂၆.၇၂ | ၈၃၀.၀၀ |
| | (၂) 6.00 MM | ၃၈၇၀.၇၂ | ၈၀၅.၀၀ |
| | (၃) 12.00 MM | ၁၂၄၄.၁၆ | ၇၄၀.၀၀ |
| | (၄) 19.00 MM | ၁၃၈၂.၄၀ | ၇၀၂.၀၀ |
| (ခ) | Veneer (၁၀၀%) | | |
| | (၁) Face | ၁၂၈၈၇.၀၀ | ၆၃၈.၀၀ |
| | (၂) Core | ၁၆၀၆၀.၀၀ | ၃၀၀.၀၀ |
| | (၃) Teak | ၈၇၄.၀၀ | ၅,၂၉၇.၀၀ |
| (ဂ) | Sawn Timber (၁၀၀%) | ၁၃၈၄၃.၀၀ | ၈၇၅.၀၀ |

၈။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ် (ဆဋ္ဌမမြောက်နှစ်) တွင် ကုမ္ပဏီမှ ရရှိမည့် အကျိုးအမြတ်မှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | | US$ (သန်း) |
|---|---|---|
| (က) | ဝင်ငွေ | ၃၅.၃၅ |
| (ခ) | အသုံးစရိတ် | ၃၄.၈၅ |
| (ဂ) | အသားတင်အမြတ် | ၀.၅၀ |

၉။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ဆဋ္ဌမမြောက်နှစ်တွင် နိုင်ငံတော်မှရရှိမည့် အကျိုးအမြတ်ခန့်မှန်းခြေအနေဖြင့် ဝင်ငွေခွန်မှာ အမေရိကန်ဒေါ်လာ ၀.၁၇ သန်း ဖြစ်ပြီး ကုန်သွယ်လုပ်ငန်းခွန်မှာ အမေရိကန်ဒေါ်လာ ၀.၁၁ သန်းဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေကာလမှာ ၃ နှစ် နှင့် ၁၁ လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) မှာ ၂၀% ဖြစ်ပါသည်။

၁၀။ အဆိုပြုလုပ်ငန်းနှင့် ပတ်သက်၍ အောက်ပါအတိုင်း သဘောထားမှတ်ချက်များ ပြန်ကြားထားပါသည်-

(က) **ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့**မှ ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်ခြင်းမရှိပါကြောင်း၊ အဆိုပြုလုပ်ငန်းလုပ်ကိုင်ပါက မြို့နယ်ဒေသအလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူ ဖြစ်စေပါကြောင်း ဖော်ပြပါမြေနေရာတွင် လုပ်ငန်းဆောင်ရွက်ခြင်းဖြင့် ဒေသခံများက လူမှုရေး၊ စီးပွားရေး လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်း ရှိပါကြောင်းနှင့် အဆိုပါရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသစ် ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း သဘောထား ပြန်ကြားထားပါသည်။

**နောက်ဆက်တွဲ-က**

(ခ) **ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန** မှ အဆိုပြုလွှာပါ လုပ်ငန်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို ရှောင်ရှားနိုင်ရန်အတွက် လုပ်ငန်းလည်ပတ် ခြင်းနှင့် ထုတ်လုပ်ခြင်းအဆင့်ဆင့်တို့၏ စီမံကိန်းဆိုင်ရာ အချက်အလက်များ ပြည့်စုံစွာ ဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံး ဖြစ်စေမည့် အစီအစဉ်များရေးဆွဲပြီး လိုက်နာဆောင်ရွက်ရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာ တာဝန်ခံမှု (CSR) အတွက် အမြတ်ငွေ၏ ၂ % အား အသုံးပြုရန် အပါအဝင် ကတိကဝတ်များ၊ လုပ်ငန်းစီမံချက်များအတိုင်း အကောင်

အထည်ဖော် ဆောင်ရွက်ရန်၊ ပတ်ဝန်းကျင်နှင့် လူမှုရေး ထိခိုက်မှု မရှိစေရေး သို့မဟုတ် ပတ်ဝန်းကျင်နှင့် လူမှုရေး ထိခိုက်မှု အနည်းဆုံး ဖြစ်စေရေးတို့အတွက် ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental Impact Assessment- EIA) အစီရင်ခံစာကို ရေးဆွဲတင်ပြရန်၊ အဆိုပါအစီရင်ခံစာအရ စောင့်ကြပ်ကြည့်ရှု စစ်ဆေးသည့် စနစ်များ၊ ပတ်ဝန်းကျင် ထိခိုက်မှု လျော့ပါးရေးဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေနှင့် ဆောင်ရွက်မည့် အဖွဲ့အစည်း စသည်တို့ ပါဝင်သည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan- EMP) ကို ရေးဆွဲပြုစုတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည် ဖော်ဆောင်ရွက်ရန်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာဥပဒေ၊ နည်းဥပဒေများ၊ စံသတ်မှတ်ချက်များနှင့် ပတ်သက်၍ EIA နှင့် EMP တို့တွင် ဖော်ပြပါရှိသည့် အချက်များအား စီမံကိန်း အကောင်အထည်ဖော် ဆောင်ရွက်သူမှ လိုက်နာ အကောင် အထည်ဖော် ဆောင်ရွက်မည် ဖြစ်ကြောင်း ကတိဝန်ခံချက်ကို EIA အစီရင်ခံစာတွင် ထည့်သွင်းဖော်ပြရန်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာနနှင့် သက်ဆိုင်ရာဝန်ကြီး ဌာန အသီးသီးမှ ထုတ်ပြန်ထားသော ပတ်ဝန်းကျင် ထိန်းသိမ်း ရေးဆိုင်ရာ ဥပဒေ၊ နည်းဥပဒေ၊ စည်းမျဉ်းစည်းကမ်းနှင့် ညွှန်ကြားချက်များကို တိကျစွာ လိုက်နာ သဘောထားမှတ်ချက် ပြန်ကြားထားပါသည်။

**နောက်ဆက်တွဲ-ခ**

(ဂ) **စက်မှုဝန်ကြီးဌာနမှ** လျှပ်စစ်သွယ်တန်းအသုံးပြုမှုများကို လျှပ်စစ်ဥပဒေနှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန် လိုအပ်ပါကြောင်း နှင့် ပုဂ္ဂလိကစက်မှုလုပ်ငန်း ဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင်ဆောင်ရွက်ရန် လိုအပ်ကြောင်း သဘောထားမှတ်ချက် ပြန်ကြားထားပါသည်။

**နောက်ဆက်တွဲ-ဂ**

၁၁။ ငွေရေးကြေးရေး အထောက်အထားအဖြစ် Archidply Industries Ltd. သည် အိန္ဒိယနိုင်ငံရှိ ICICI Bank တွင် ၁-၄-၂၀၁၅ ရက်စွဲဖြင့် ရူပီး ၁၁၁,၆၇၆.၀၅ ရှိကြောင်း၊ VIJAYA Bank တွင် ၁၅-၄-၂၀၁၅ ရက်နေ့ဖြင့် ရူပီး ၃၇၆,၃၄၂,၉၇၀.၄၈ ရှိကြောင်း The Mysore Chipboards Ltd. သည် အိန္ဒိယနိုင်ငံရှိ ICICI Bank တွင် ၂၄-၄-၂၀၁၅ ရက်စွဲဖြင့် ရူပီး ၅၂၅,၂၇၅.၇၉ ရှိကြောင်း၊ Mr. Shyam Daga သည် အိန္ဒိယနိုင်ငံရှိ ICICI Bank တွင် ၂၄-၄-၂၀၁၅ ရက်စွဲဖြင့် ရူပီး ၅၉,၁၁၂.၈၆ ရှိကြောင်း၊ Mr. Sandeep Bharadia သည် အိန္ဒိယနိုင်ငံရှိ United Bank of India မှ ၁၁-၂-၂၀၁၅ ရက်စွဲဖြင့် ရူပီး ၃၄၃၉၀၁.၄၇ ရှိကြောင်း ငွေကြေးအထောက်အထားများ တင်ပြထားပါသည်။

၁၂။ Wartayar Veneer Industries Private Limited မှ မီးဘေးကြိုတင် ကာကွယ်ရေး စီမံချက်၊ လုပ်ငန်းခွင်သာယာရေးနှင့် ဝန်ထမ်းသက်သာချောင်ချိရေးစီမံချက်၊ ဝန်ထမ်းများ၏ ကျန်းမာရေးအတွက်စီမံချက်၊ ပတ်ဝန်းကျင် ထိန်းသိမ်းစောင့်ရှောက်မည်ဖြစ်ကြောင်း ကတိ

ဝန်ခံချက်၊ အလုပ်သမားများ လစာအပေါ် ဝင်ငွေခွန်ပေးဆောင်မည်ဖြစ်ကြောင်း ဝန်ခံကတိပြုစာ၊ လုပ်ငန်း သဘောသဘာဝ၊ အခွန်ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များ လျှောက်ထားချက်နှင့် CSR Project တို့ကို တင်ပြထားပါသည်။ စက်ရုံ၏တည်နေရာပြမြေပုံ၊ အဆောက်အဦခာတ်ပုံများ တင်ပြထားပါသည်။ သစ်တောဦးစီးဌာနသို့ ပုဂ္ဂလိကသစ်တောစိုက်ခင်း ဧက ၁၀၀၀ တည်ထောင်ခွင့် လျှောက်ထားခြင်းနှင့် ကတိခံဝန်ချက်တို့အား တင်ပြထားပါသည်။

၁၃။ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် တင်ပြထားပါသည်။

၁၄။ အဆိုပါလုပ်ငန်းသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ၂၀၁၄ ခုနှစ် ဩဂုတ်လ ၁၄ ရက်နေ့ ရက်စွဲဖြင့် ထုတ်ပြန်ထားသော အမိန့်ကြော်ငြာစာအမှတ် ၄၉/၂၀၁၄ ၏ စီးပွားရေးလုပ်ငန်း အမျိုးအစားများ ပြင်ဆင်သတ်မှတ်ခြင်းတွင်ခွင့်မပြုသည့်လုပ်ငန်း၊ ဖက်စပ်စနစ်ဖြင့်သာ ဆောင်ရွက်ရမည့်လုပ်ငန်း၊ ကန့်သတ်ချက်တစ်ရပ်ရပ်ကို လိုက်နာဆောင်ရွက်ရမည့်လုပ်ငန်း စာရင်းတွင် မပါဝင်သဖြင့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ခွင့်ပြုနိုင်သောလုပ်ငန်းအမျိုးအစား ဖြစ်ပါသည်။

၁၅။ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၀၁၅ ခုနှစ် ဇွန်လ ၁ ရက်နေ့တွင် ကျင်းပပြုလုပ်သည့် ၁၈/၂၀၁၅ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပြီးဖြစ်ပါသည်။

**စိစစ်တင်ပြချက်**

(က) ပုဂ္ဂလိကမြေအား နိုင်ငံခြားသားပိုင်ကုမ္ပဏီသို့ ငှားရမ်းဆောင်ရွက်ခွင့်ပြုရန် ကိစ္စအတွက် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၀/၂၀၁၅) ကြိမ်မြောက် အစည်းအဝေးသို့တင်ပြထားပြီး စီးပွားရေးရာကော်မတီနှင့် ပြည်ထောင်စုအစိုးရအဖွဲ့ အစည်းအဝေးများသို့ ဆက်လက်တင်ပြသွားမည် ဖြစ်ပါသည်။

(ခ) ပုဂ္ဂလိကမြေတွင် ငှားရမ်းဆောင်ရွက်ခြင်းအတွက် ပြည်ထောင်စုအစိုးရအဖွဲ့မှ သဘောတူ ခွင့်ပြုပြီးမှသာ ကော်မရှင် ခွင့်ပြုမိန့် ထုတ်ပေးမည်ဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

အိန္ဒိယနိုင်ငံ Archidply Industries Limited. မှ ၁၉%၊ The Mysore Chipboards Limited မှ ၇၉%၊ Mr. Shyam Daga မှ ၁%၊ Mr. Sandeep Kumar Bharadia၊ Mr. Gopi Chand Byas၊ Mr. Ranfarajan Ramachettiar တို့မှ ၁% ပါဝင်၍ ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Wartayar Veneer Industries Private Limited တည်ထောင်ကာ ရန်ကုန်တိုင်းဒေသကြီး၊ ရွှေပြည်သာမြို့နယ်၊ ဝါးတရာစက်မှုဇုန်၊ အကွက် အမှတ်-၄၉၊ မြေကွက်အမှတ်-၃၂၂၊ ၃၂၃ ရှိ စုစုပေါင်းမြေဧရိယာ ၄.၀၁၈ ဧက (၁၆,၂၆၀.၂၇ စတုရန်းမီတာ) ကို ငှားရမ်းကာ ဈေးကွက်ဝင် မျက်နှာပြင်သစ်ပါးလွှာ၊ မျက်နှာပြင်ကပ် သစ်ပါးလွှာ၊ သစ်ခွဲသား၊

ကန့်သတ်

၁၂

ကျွန်းသစ်ပါးလွှာနှင့် အထပ်သား ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့် ပြုပါရန် တင်ပြလာခြင်းကိစ္စအပေါ် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(ချိုချိုဝင်း၊ ဒုတိယညွှန်ကြားရေးမှူးချုပ်)

မိတ္တူ။

ရုံးလက်ခံ

ကန့်သတ်

၁၃

Wartayar Veneer Industries Private Limited ၏ ဒါရိုက်တာနှင့် အစုရှင်များ၏ နေရပ်လိပ်စာစာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/ အစုရှင်များ၏ အမည် | ဒါရိုက်တာ/ အစုရှင်များ၏ ဆက်သွယ်ရန် လိပ်စာ |
|---|---|---|---|
| ၁။ | Wartayar Veneer Industries Private Limited | (၁) Archidply Industries Limited (Incoporated in India) Represented by Mr. Shyam Daga India Z 2225281 | N0.6/1,Flat No 315,Mangalaya Residences, Benson Cross Road, Benson Town, Bangalore, Karnataka, India-560048 |
| | | (၂) The Mysore Chipboards Limited (Incoporated in India) Represented by Mr. Shyam Daga India Z 2225281 | N0.6/1,Flat No 315,Mangalaya Residences, Benson Cross Road, Benson Town, Bangalore, Karnataka, India-560048 |
| | | (၃) Mr. Shyam Daga India Z 2225281 | N0.6/1,Flat No 315,Mangalaya Residences, Benson Cross Road, Benson Town, Bangalore, Karnataka, India-560048 |
| | | (၄) Mr. Sandeep Kumar Bharadia India K 1476122 | 2/7 Sarat Bose Road ,Room no.9 , PS-Ballygune,Kolkata India,-20 |
| | | (၅) Mr. Rangarajan Ramachettiar India L 5777915 | #2/15, Dharmaraj Kovil Street, Karanodai, Chennai, Tamilnadu, India-600067 |

ကန့်သတ်

| | | | |
|---|---|---|---|
| ၁။ | ဆက်သွယ်ရမည့် တယ်လီဖုန်းနံပါတ်၊ ဖက်စ်နံပါတ် | - | ၀၉-၂၅၀၂၅၉၃၃၉ |
| ၂။ | ဆက်သွယ်ရမည့် လိပ်စာအပြည့်အစုံ | - | ရန်ကုန်တိုင်း ဒေသကြီး၊ ရွှေပြည်သာမြို့နယ်၊ ဝါးတရာ စက်မှုဇုန်၊ အကွက်အမှတ်-၄၉၊ မြေကွက်အမှတ်-၃၂၂၊ ၃၂၃ |
| ၃။ | ဆက်သွယ်ရမည့် ပုဂ္ဂိုလ်အမည်၊ ရာထူး | - | Mr. Shyma Daga |
| ၄။ | ကုမ္ပဏီအနေဖြင့်ဆောင်ရွက်သည့်လုပ်ငန်းများ | - | သစ်ပါးလွှား၊ မျက်နှာပြင်ကပ်သစ်ပါးလွှာ၊ သစ်ခွဲသား၊ ကျွန်းသစ်ပါးလွှာနှင့်အထပ်သား ရောင်းချခြင်းလုပ်ငန်း |
| ၅။ | ကုမ္ပဏီမှတ်ပုံတင်အမှတ်/ နေ့စွဲ | - | - |
| ၆။ | ကုမ္ပဏီမှတ်ပုံတင်ကုန်ဆုံးသည့်နေ့စွဲ | - | - |
| ၇။ | ဘဏ်အမည်နှင့် ဘဏ်စာရင်းအမှတ် | - | - |

ကန့်သတ်

၁၅

နောက်ဆက်တွဲ-က



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# တိုင်းဒေသကြီးအစိုးရအဖွဲ့
# ရန်ကုန်တိုင်းဒေသကြီး

စာအမှတ်၊ ၃ / ၆ - ၃ (၄၃) / အဏ္ဏာ

ရက် စွဲ၊ ၂၀၁၅ ခုနှစ်၊ ဇွန် လ ၁၆ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၀. ၅. ၂၀၁၅ ရက်စွဲပါစာအမှတ်၊ ရကာ - ၂/ န-၁၂၆ / ၂၀၁၅ (၄၁၆-ဂ)

၁။ အိန္ဒိယနိုင်ငံ Archidply Industries Limited. မှ ၁၉%၊ The Mysore Chipboards Limited မှ ၇၉%၊ Mr. Shyam Daga မှ ၁%၊ Mr. Sandeep Kumar Bharadia၊ Mr. Gopi Chand Byas၊ Mr. Ranfarajan Ramachettiar တို့မှ ၁%ပါဝင်၍ ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Wartayar Veneer Industries Private Limited တည်ထောင်ကာ ရန်ကုန်တိုင်းဒေသကြီး၊ ရွှေပြည်သာမြို့နယ်၊ ဝါးတစ်ရာစက်မှုဇုန်၊ အကွက်အမှတ်-၄၉၊ မြေကွက်အမှတ်-၃၂၂၊ ၃၂၃ ရှိ စုစုပေါင်းမြေဧရိယာ ၄. ၀၁၈ ဧက( ၁၆,၂၆၀. ၂၇ စတုရန်းမီတာ)ကို ငှားရမ်းကာ စျေးကွက်ဝင် မျက်နှာပြင်သစ်ပါးလွှာ၊ မျက်နှာပြင်ကပ်သစ်ပါးလွှာ၊ သစ်ခွဲသား၊ ကျွန်းသစ်ပါးလွှာနှင့် အထပ်သား ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားလာမှုအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာခြင်းနှင့်ပတ်သက်၍ ကွင်းဆင်းစိစစ်မှုအရ အောက်ပါအတိုင်း သဘောထားမှတ်ချက် တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့်နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်နိုင်ခြင်းမရှိပါ။

(ခ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ပါက ပြည်တွင်းလုပ်သားအင်အား (၃၄၃)ဦးနှင့် နိုင်ငံခြားသားဝန်ထမ်း (၂၅)ဦးတို့ အလုပ်အကိုင်ရရှိမည် ဖြစ်သောကြောင့် မြို့နယ်ဒေသအလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုး တိုးတက်မှုအတွက် အထောက်အကူဖြစ်စေပါသည်။

(ဂ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ရန် ရန်ကုန်တိုင်းဒေသကြီး၊ ရွှေပြည်သာမြို့နယ်၊ ဝါးတစ်ရာစက်မှုဇုန်၊ အကွက်အမှတ်-၄၉၊ မြေကွက်အမှတ်-၃၂၂၊ ၃၂၃ ရှိ စုစုပေါင်းမြေဧရိယာ ၄. ၀၁၈ ဧက (၁၆,၂၆၀. ၂၇ စတုရန်းမီတာ)အား တစ်နှစ်အတွက် မြေတစ်စတုရန်းမီတာလျှင် USD ၈. ၁၂ နှုန်းဖြင့် နှစ်(၃၀) (၅နှစ်+၅နှစ်+၅နှစ်+၅နှစ်+၅နှစ်+၅နှစ်) ငှားရမ်းလုပ်ကိုင်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်းရှိပါသည်။

(ဃ) လုပ်ငန်းဆောင်ရွက်နိုင်သည့် မြေနေရာဖြစ်ပြီး အဆိုပြုလုပ်ငန်းလုပ်ကိုင်ရာတွင် သဘာဝ ပတ်ဝန်းကျင်အား ထိခိုက်မှုမရှိစေရန် စီမံဆောင်ရွက်မည်ဟု တင်ပြထားပါသည်။

စိုက်ခင်းများ တည်ထောင်ခြင်းဖြင့်လည်းကောင်း ဆောင်ရွက်ရမည်ဖြစ်ရာ ကုမ္ပဏီ အနေဖြင့် သစ်တောဦးစီးဌာနသို့ ဧရာဝတီတိုင်းဒေသကြီး သို့မဟုတ် ပဲခူးတိုင်းဒေသကြီး သို့မဟုတ် ဌာနမှ စီစဉ်ခွင့်ပြုသည့် ဒေသတွင် ကျွန်း ၊ ယူကလစ် ၊ ကညင်သစ်မျိုးတို့ကို (၁) နှစ်လျှင် (၂၀၀) ဧကနှုန်းဖြင့် (၅) နှစ်အတွက် (၁၀၀၀) ဧကအား စိုက်ပျိုးတည်ထောင်ခွင့်ပြုပါရန် လျှောက်ထားလာသည်ကို စိစစ်တွေ့ရှိရပါသည်။

၄။ သို့ဖြစ်ပါ၍ Wartayar Veneer Industries Private Limited မှ မျက်နှာပြင်သစ်ပါးလွှာ မျက်နှာပြင်ကပ်သစ်ပါးလွှာ ၊ သစ်ခွဲသား ၊ ကျွန်းသစ်ပါးလွှာ နှင့် အထပ်သား ထုတ်လုပ်သည့် လုပ်ငန်းဆောင်ရွက်ခွင့်ပြုရန် ကိစ္စနှင့်ပတ်သက်၍ အောက်ဖော်ပြပါအတိုင်း လိုက်နာဆောင်ရွက်ရန်လိုအပ်မည်ဖြစ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလွှာပါလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင် ၊ လူမှုရေး နှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို ရှောင်ရှားနိုင်ရန်အတွက် လုပ်ငန်းလည်ပတ်ခြင်းနှင့်ထုတ်လုပ်ခြင်းအဆင့်ဆင့်တို့၏ စီမံကိန်းဆိုင်ရာ အချက်အလက်များ ပြည့်စုံစွာဖော်ပြပြီးလုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် အစီအစဉ်များရေးဆွဲပြီး လိုက်နာဆောင်ရွက်ရန် နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာ တာဝန်ခံမှု (CSR) အတွက် အမြတ်ငွေ၏ ၂ % အား အသုံးပြုရန် အပါအဝင် ကတိကဝတ်များ ၊ လုပ်ငန်းစီမံချက်များအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်သွားရန်၊

(ခ) ပတ်ဝန်းကျင် နှင့် လူမှုရေးထိခိုက်မှုမရှိစေရေး သို့မဟုတ် ပတ်ဝန်းကျင် နှင့် လူမှုရေး ထိခိုက်မှု အနည်းဆုံးဖြစ်စေရေးတို့အတွက် ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental Impact Assessment - EIA ) အစီရင်ခံစာကို ရေးဆွဲတင်ပြရန်၊

(ဂ) အဆိုပါအစီရင်ခံစာအရ စောင့်ကြပ်ကြည့်ရှုစစ်ဆေးသည့် စနစ်များ၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးရေးဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေ နှင့် ဆောင်ရွက်မည့် အဖွဲ့အစည်း စသည်တို့ပါဝင်သည့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP) ကို ရေးဆွဲတင်ပြရန် နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(ဃ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဥပဒေ ၊ နည်းဥပဒေများ ၊ စံသတ်မှတ်ချက်များ နှင့် ပတ်သက်၍ EIA နှင့် EMP တို့တွင် ဖော်ပြပါရှိသည့် အချက်များအား စီမံကိန်း အကောင်အထည်ဖော် ဆောင်ရွက်သူမှ လိုက်နာအကောင်အထည်ဖော် ဆောင်ရွက်မည်ဖြစ်ကြောင်း ကတိဝန်ခံချက်ကို EIA အစီရင်ခံစာတွင် ထည့်သွင်းဖော်ပြရန်၊

## ကန့်သတ်



(င) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန နှင့် သက်ဆိုင်ရာဝန်ကြီးဌာနအသီးသီးမှ ထုတ်ပြန်ထားသော ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာဥပဒေ ၊ နည်းဥပဒေ ၊ စည်းမျဉ်းစည်းကမ်း နှင့် ညွှန်ကြားချက်များကို တိကျစွာလိုက်နာဆောင်ရွက်ရန်၊

(စ) သက်ဆိုင်ရာတိုင်းဒေသကြီးအစိုးရအဖွဲ့၏ကြီးကြပ်ကွပ်ကဲမှုဖြင့် ဒေသခံပြည်သူများ၏ ဆန္ဒ နှင့် သဘောထားမှတ်ချက် ရယူဆောင်ရွက်ရန်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
( ခင်မောင်ရီ ၊ အမြဲတမ်းအတွင်းဝန် )

မိတ္တူကို

ညွှန်ကြားရေးမှူးချုပ်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ညွှန်ကြားရေးမှူးချုပ်
သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး
မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်
ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

ကန့်သတ်

၂၀

နောက်ဆက်တွဲ- ဂ



## ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
## စက်မှုဝန်ကြီးဌာန

MIC ၂၇/၆၉၆

စာအမှတ်၊ ၂၁-စမ(၂)၂၀၁၅-၂၀၁၆ (၈၀၇)
ရက် စွဲ၊ ၂၀၁၅ ခုနှစ်၊ ဇွန်လ ၁၈ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏၃၀. ၅. ၂၀၁၅ ရက်စွဲပါ စာအမှတ်၊ ရက-၂/န-၁၂၆ / ၂၀၁၅ (၄၁၆-ဆ)

၁။ Wartayar Veneer Industries Private Limited. သည် ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံပြီး ရန်ကုန်တိုင်းဒေသကြီး၊ ရွှေပြည်သာမြို့နယ်၊ ဝါးတရာစက်မှုဇုန်၊ အကွက်အမှတ်(၄၉)၊ မြေကွက်အမှတ်(၃၂၂၊ ၃၂၃)တွင် ဈေးကွက်ဝင် မျက်နှာပြင်သစ်ပါးလွှာ၊ မျက်နှာပြင်ကပ်သစ်ပါးလွှာ၊ သစ်ခွဲသား၊ ကျွန်းသစ်ပါးလွှာနှင့် အထပ်သားထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါကုမ္ပဏီမှ ဆောင်ရွက်မည့်လုပ်ငန်းများနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံပြီး ဈေးကွက်ဝင် မျက်နှာပြင်သစ်ပါးလွှာ၊ မျက်နှာပြင်ကပ် သစ်ပါးလွှာ၊ သစ်ခွဲသား၊ ကျွန်းသစ်ပါးလွှာနှင့် အထပ်သားထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်မည်ဖြစ်ပါသည်။

(ခ) လျှပ်စစ်သွယ်တန်းအသုံးပြုမှုများကို လျှပ်စစ်ဥပဒေနှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဂ) ပတ်ဝန်းကျင်ညစ်ညမ်းမှု မဖြစ်ပေါ်စေရေးအတွက် ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဦးစီးဌာန၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဃ) ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် လျှောက်ထားဆောင်ရွက်ရန် လိုအပ်ပါသည်။